ကုမ္ပဏီအမည် - ရွှေမြင်း ကုမ္ပဏီ လီမိတက်(Shwe Myinn Company Limited)
လုပ်ငန်း - Contract Processing စနစ်ဖြင့်ငါး၊ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့်အရည်အသွေးမြင့်မားသည့် တန်ဘိုးမြင့်ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၅-၄-၂၀၁၅ | | |
| ၂ | PAT တင်ပြခြင်း | ၁၁-၅-၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၁-၅-၂၀၁၅ | | |
| ၄ | MIC သို့သဘောထားတောင်းခံခြင်း | MIC ၁၁/၂၀၁၅ (၂၂-၆-၂၀၁၅)<br>MIC ၁၄/၂၀၁၅ (၇-၈-၂၀၁၅) | | |
| ၅ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စက်မှုဝန်ကြီးဌာန | ၃၀-၆-၂၀၁၅ | ၁၅-၇-၂၀၁၅ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၃၀-၆-၂၀၁၅ | ၂၈-၇-၂၀၁၅ | |
| | (ဂ) မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန | ၃၀-၆-၂၀၁၅ | ၁၃-၇-၂၀၁၅ | |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | ၃၀-၆-၂၀၁၅ | ၁၄-၇-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း | | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | | | |
| ၈ | ကုမ္ပဏီ မှပြင်ဆင်ချက် | ၁-၉-၂၀၁၅ | | |
| ၉ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၆ /၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၁၂၆ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Shwe Myinn Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | Contract Processing စနစ်ဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေးမြင့်မားသည့်တန်ဖိုးမြင့်ငါး၊ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး ၊လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၅)၊ မြေကွက်အမှတ်(၃၀၄) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၇၄၃.၁၂၄ သန်း (အမေရိကန်ဒေါ်လာ ၀.၃၄၂သန်း) |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်ပ |
| လုပ်ငန်းသက်တမ်း | - | ၅၀ နှစ် |
| အရင်းကြေကာလ | - | ၆ နှစ် ၆ လ |
| IRR | - | ၃၀.၈၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် - ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၇.၁၁ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၅၄.၂၄ သန်း | ကျပ် - ၁၉၉.၁၇ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် - ၁၉၂.၀၇ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း ( ၈ ) ဦး |
| ၇ | CSR (၂ %) | | ကျပ် ၁.၇၄ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၇၈ ဦး<br>ပြည်တွင်းလုပ်သား (၁၇၈) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၇၂.၉၀ သန်း | ကျပ် ၃၉၂.၃၄ သန်း |
| | Cost & Benefit | ၁ : ၅ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Myinn Co., Ltd. မှ Contract Processing စနစ်ဖြင့် ငါး၊ပုစွန်ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့် တန်ဖိုးမြင့် ငါး၊ ပုစွန် ကုန်ချော များထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Shwe Myinn Co., Ltd.<br>- ဒေါ်ဇမီရမ် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Contract Processing စနစ်ဖြင့် ငါး၊ ပုစွန်ပြုပြင် အေးခဲထုတ်လုပ်ခြင်းနှင့်အရည်အသွေးမြင့်မားသည့် တန်ဖိုးမြင့်ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ် (၃၀၄) |
| | မြေအကျယ်အဝန်း | - စုစုပေါင်း(၂.၁၇၀)ဧက(၁၀၁၇၃၄၈.၆၉စတုရန်းမီတာ) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် နှင့်၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ်၇၄၃.၁၂၄သန်း(အမေရိကန်ဒေါ်လာ၀.၃၄၂သန်း အပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား | **ကျပ်(သန်း)** |
| | ငွေသား | ၅၀.၀၀၀ |
| | အဆောက်အဦ | ၃၂၉.၆၇၉ |
| | စက်ပစ္စည်းကိရိယာများ(ပြည်ပဝယ်) | ၃၄၂.၂၄၅ (အမေရိကန်ဒေါ်လာ ၀.၃၄၂ သန်းအပါအဝင်) |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၂၀.၂၀၀ |
| | **စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ** | ၇၄၃.၁၂၄ |
| ၆။ | ဝန်ထမ်းအင်အား | - ၁၇၈ ဦး |
| | ပြည်တွင်း | - ၁၇၈ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၉၀,၀၀၀နှင့် အမြင့်ဆုံးလစာကျပ် ၂၅၀,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀ % |

| | | |
|---|---|---|
| ၈။ | နှစ်စဉ်ထုတ်လုပ်မှု (ပုံမှန်နှစ်)<br>CMP စနစ် | **စဉ်** / **ပစ္စည်းအမျိုးအစား** / **အရေအတွက် (Ton)** / **CMP လက်ခနှုန်း (US$/Ton)**<br>(က) Fish<br>၁။ Salone — ၁၀၅၀ — ၁၇၀<br>၂။ White Pomfret — ၁၅၀၀ — ၁၇၀<br>၃။ Ribbon Fish — ၉၅၀ — ၁၇၀<br>(ခ) Prawn<br>Bannamei — ၂၀၀၀ — ၅၂၅ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ပုံမှန်နှစ်)<br>ကုမ္ပဏီ၏ အသားတင်အမြတ်<br>ကုမ္ပဏီ ၏ အသုံးစရိတ် | - ကျပ် ၁၆၄၅.၀၀ သန်း<br>- ကျပ် ၂၇၀.၅၆ သန်း<br>- ကျပ် ၁၃၇၄.၄၄ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်<br>အကျိုး အမြတ် ဝင်ငွေခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်<br>အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | <br>- ကျပ် ၉၀.၁၉ သန်း<br>- ၆ နှစ် နှင့် ၆ လ<br><br>- ၃၀.၈၂ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၅၀၀,၀၀၀ kwh |
| ၁၂။ | အခြားတင်ပြချက် | - ငွေအထောက်အထားအဖြစ် Shwe Myinn Co., Ltd. အမည်ဖြင့် ရိုးမဘဏ်ရှိ (၁၇-၈-၂၀၁၅) ရက်ရှိ ငွေလက်ကျန် ကျပ်၈၀.၀၁၈ သန်းရှိကြောင်း တင်ပြထားပါသည်။<br>- Shwe Myinn Co., Ltd.၏ မှတ်ပုံတင်လက်မှတ်နှင့် ပုံစံ၆၊ ၂၆နှင့် MOA, AOA မိတ္တူ တင်ပြထားပါသည်။<br>- စက်ရုံမီးဘေး ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများနှင့် ပတ်သက်၍ သက်မှတ်နှုန်းထားများ အတိုင်း အခွန်ပေးဆောင်မှုနှင့်ပတ်သတ်၍ ကတိဝန်ခံချက်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ကာကွယ်မှု အစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုတင်ပြထားပါသ ည်။<br>- လုပ်ငန်းသဘောသဘာဝနှင့် ဆက်လက် ဆောင်ရွက်မည့် အစီအစဉ်များကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃။ | စိစစ်တင်ပြချက် | - ကုမ္ပဏီမှ Normal စနစ် နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်းကို ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန် ၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊ မြေကွက်အမှတ် (၃၀၄) တွင် လုပ်ကိုင်ဆောင်ရွက်ရန် ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဆိုပြုချက် စစ်ဆေးရေးအဖွဲ့၏ (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ ဆောင်ရွက်မည့်မြေတွင် စက်များ တိုးချဲ့ တပ်ဆင်ရန် နေရာရှိ-မရှိ ကွင်းဆင်းစစ်ဆေးရန် ဆုံးဖြတ်ခဲ့ပါသည်။<br>- အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ Shwe Myinn Co., Ltd. တည်ရှိရာ နေရာသို့ ၂၀၁၅ ခုနှစ် မေလ ၂၇ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။ကွင်းဆင်းစစ်ဆေးချက်အရ ကုမ္ပဏီသည် ၂၀၁၄ ခုနှစ် မေလ ၁၆ ရက်နေ့ ရက်စွဲဖြင့် ငါး၊ ပုစွန်ပြုပြင် စက်ရုံလိုင်စင်ကို ရရှိခဲ့ပြီး လုပ်ငန်း လုပ်ကိုင်လျှက်ရှိကြောင်း၊ ယခုအခါ စက်ပစ္စည်း အဟောင်းများကို ဖယ်ရှား၍ စက်ပစ္စည်း အသစ်များ တပ်ဆင်မည်ဖြစ်ပြီး တပ်ဆင်မည့် စက်ပစ္စည်း နှင့် စက်ပစ္စည်းထားရှိမည့်အခန်းမှာ လုံလောက်မှု ရှိကြောင်း တွေ့ရှိခဲ့ရပါသည်။<br>- အဆိုပါ ကွင်းဆင်းစစ်ဆေးချက် အစီရင်ခံစာနှင့်အတူ Shwe Myinn Co., Ltd. မှ Normal စနစ် နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့်တန်ဘိုးမြင့်ငါး၊ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်း(၂)မျိုးအား ဆောင်ရွက် ခွင့်ပြုပါရန် |

| | | |
|---|---|---|
| | | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၂၀၁၅ ခုနှစ် ဇွန်လ ၂၂ ရက်နေ့တွင် ကျင်းပသော (၁၁/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးနှင့် ၂၀၁၅ ခုနှစ် ဩဂုတ်လ ၇ ရက်နေ့တွင်ကျင်းပသော (၁၄/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ ၎င်းအဆိုပြုချက်အား Contract Processing စနစ်ဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်း နှင့် အရည်အသွေး မြင့်မားသည့် တန်ဖိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်း အနေဖြင့် ကော်မရှင် အစည်းအဝေးသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ ပါသည်။<br>- မြေနှင့်ပတ်သက်၍ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ ဒါရိုက်တာ ဖြစ်သူ ဒေါ်ယုမေ အမည်ဖြင့် လုပ်ပိုင်ခွင့်ရရှိထားသော မြေငှားစာချုပ်ကို တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ မ- ၂၁၄ / ၂၀၁၅ ( ၆၈၃ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေမြင်း ကုမ္ပဏီ လီမိတက် (Shwe Myinn Company Limited) မှ Contract Processing စနစ်ဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Myinn Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၃၀၄)ရှိ မြေအကျယ်စုစုပေါင်း(၂.၁၇၀)ဧက (၁၀၁၇၃၄၈.၆၉) စတုရန်းမီတာတွင် Contract Processing စနစ်ဖြင့် ငါး၊ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန် ကုန်ချောများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ဖမီရမ် (အဘ-ဦးတင်ကျော်) မှ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၇၄၃.၁၂၄ သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများကို အမေရိကန်ဒေါ်လာ ၀.၃၄၂ သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| စဉ် | ထည့်ဝင်သည့် အမျိုးအစား | ကျပ်(သန်း) |
|---|---|---|
| (က) | ငွေသား | ၅၀.၀၀၀ |
| (ခ) | အဆောက်အဦ | ၃၂၉.၆၇၉ |
| (ဂ) | စက်ပစ္စည်းကိရိယာများ(ပြည်ပဝယ်) | ၃၄၂.၂၄၅(အမေရိကန်ဒေါ်လာ၀.၃၄၂သန်း အပါအဝင်) |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၂၀.၂၀၀ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၇၄၃.၁၂၄ သန်း** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၁၇၈) ဦး၊ ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် CMP စနစ် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

**(က) နှစ်စဉ်ထုတ်လုပ်မှု (ပုံမှန်နှစ်) CMP စနစ်**

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Ton) | ရောင်းချမည့် ဈေးနှုန်း (US$/ Ton) |
|---|---|---|---|
| (က) | Fish | | ၁၇၀ |
| | ၁။ Salone | ၁၀၅၀ | ၁၇၀ |
| | ၂။ White Pomfret | ၁၅၀၀ | ၁၇၀ |
| | ၃။ Ribbon Fish | ၉၅၀ | ၁၇၀ |
| (ခ) | Prawn | | |
| | Bannamei | ၂၀၀၀ | ၅၂၅ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေ | - ကျပ် ၁၆၄၉.၀၀ သန်း |
| (ခ) | အသုံး စရိတ် | - ကျပ် ၁၃၇၄.၄၄ သန်း |
| (ဂ) | အသားတင်အမြတ် | - ကျပ် ၂၇၀.၅၆ သန်း |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအဖြစ် ဝင်ငွေခွန်(၂၅%)မှာ ကျပ် ၉၀.၁၉ သန်း ဖြစ်ပါသည်။

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၆)နှစ်(၆)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃၀.၈၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၁၇၈)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက်အထောက်အကူ ဖြစ်စေပါကြောင်း၊ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းတစ်ခု ချင်းစီအလိုက်လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် အစီအစဉ်များ၊ နည်းစနစ်များအသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR) အတွက် အမြတ်ငွေ၏ (၂%)အားအသုံးပြုရန်အပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ ရေဆိုးပြန်လည်သန့်စင်မှုလုပ်ငန်းစနစ်များ၊ အစိုင်အခဲစွန့်ပစ်ပစ္စည်းများစီမံခန့်ခွဲမှု၊ ရေရယူအသုံးပြုမှုနှင့် ရေစီမံခန့်ခွဲမှုစနစ်များ၊ ရေထု ညစ်ညမ်းမှုနှင့်အသံဆူညံမှု ကာကွယ်ရေး စီမံချက်များကို ထည့်သွင်းရေးဆွဲ ဆောင်ရွက်ရန်ဖြစ်ကြောင်းနှင့်ငါးပုစွန်ကုန်ကြမ်းများအား ပြုပြင်အေးခဲရာ၌ Eco-Friendly ဖြစ်စေမည့် အအေးခန်းသုံးစက်ပစ္စည်းကိရိယာများ အသုံးပြုရန် ဖြစ်ကြောင်း၊

ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေး တို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Evironmental Examination-IEE)ကိုဆောင်ရွက်ပြီး IEE အစီရင်ခံစာရေးဆွဲတင်ပြရန်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူလူထုတို့၏ဆန္ဒနှင့် သဘောထားမှတ်ချက်ရယူ ဆောင်ရွက်ရန် ဖြစ်ကြောင်း၊ သတ်မှတ်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် ဖြစ်ကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ** Contract Processing စနစ်ဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် အရည်အသွေးမြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ရန်အဆိုပြုချက်အား ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်သွယ်တန်းအသုံးပြုမှု၊ ဘွိုင်လာ အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာ ဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Shwe Myinn Company Limited သည် ရှိးမဘဏ်ရှိ (၁၇-၈-၂၀၁၅) ရက်စွဲဖြင့် ငွေစာရင်း လက်ကျန် ကျပ် ၈၀.၀၁၈ သန်း ရှိကြောင်း Shwe Myinn Company Limited ၏ MOA AOA မူကြမ်း၊ ကုမ္ပဏီမှတ်ပုံတင် အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများအား တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်းမထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီ အစဉ်များကို တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထား ပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ Normal စနစ် နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့် တန်ဖိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်းကို ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန် ၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊ မြေကွက်အမှတ်(၃၀၄)တွင် လုပ်ကိုင်ဆောင်ရွက်ရန်၂၀၁၅ ခုနှစ်မေလ၁၁ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဆိုပြုချက် စိစစ်ဆေးရေးအဖွဲ့၏ (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ ဆောင်ရွက်မည့်မြေတွင် စက်များတိုးချဲ့ တပ်ဆင်ရန် နေရာရှိ-မရှိ ကွင်းဆင်းစစ်ဆေးရန် ဆုံးဖြတ်ခဲ့ ပါသည်။

(ခ) အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက်အရ Shwe Myinn Co., Ltd. တည်ရှိရာ နေရာသို့ ၂၀၁၅ ခုနှစ် မေလ ၂၇ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။ ကွင်းဆင်းစစ်ဆေးချက်အရကုမ္ပဏီသည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-၅၅၆/၂၀၀၄-၂၀၀၅(၉-၂-၂၀၀၅)ရက်စွဲဖြင့်ဖွဲ့စည်းမှတ်ပုံတင်ခဲ့ကြောင်း၊ ၂၀၀၈ခုနှစ်တွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်လက်မှတ်နှင့် ငါးပုစွန်ပြုပြင် စက်ရုံ လိုင်စင်ကို ၂၀၁၄ ခုနှစ်တွင်ရရှိခဲ့ပြီး ငါး၊ ပုစွန်အေးခဲလုပ်ငန်းများ လုပ်ကိုင်လျှက် ရှိကြောင်း၊ ယခုအခါစက်ပစ္စည်းအဟောင်းများကိုဖယ်ရှား၍စက်ပစ္စည်းအသစ်များတပ်ဆင်မည်ဖြစ်ပြီးတပ်ဆင်မည့် စက်ပစ္စည်းနှင့် စက်ပစ္စည်းထားရှိမည့် အခန်းမှာ လုံလောက်မှုရှိကြောင်း တွေ့ရှိခဲ့ရပါသည်။

(ဂ) ကုမ္ပဏီသည် ၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်အထိ ကျသင့်အခွန်များအားလုံး ပြေကြေစွာ ထမ်းဆောင်ထားသည့် အထောက်အထား တင်ပြထားပါသည်။

(ဃ) အဆိုပါ ကွင်းဆင်းစစ်ဆေးချက် အစီရင်ခံစာနှင့်အတူ Shwe Myinn Co., Ltd. မှ Normal စနစ် နှင့်Contract Processing စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်း(၂)မျိုးအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ ခုနှစ် ဇွန်လ ၂၂ ရက်နေ့တွင်ကျင်းပသော (၁၁/၂၀၁၅) ကြိမ်မြောက်အစည်းအဝေးနှင့် ၂၀၁၅ ခုနှစ် ဩဂုတ်လ ၇ ရက်နေ့တွင်ကျင်းပသော (၁၄/၂၀၁၅)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။အဆိုပါ အစည်းအဝေးမှ ၎င်း အဆိုပြုချက်အား Contract Processing စနစ်ဖြင့် ငါး၊ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်းအနေဖြင့် ကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

(င) မြေနှင့်ပတ်သက်၍ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဒါရိုက်တာ ဖြစ်သူ ဒေါ်ယုမေ အမည်ဖြင့် လုပ်ပိုင်ခွင့်ရရှိထားသော မြေငှားစာချုပ်ကို တင်ပြ ထားပါသည်။

၁၄။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများနှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည)အရ အခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၆။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Myinn Company Limited သည် ရန်ကုန် တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊

မြေကွက်အမှတ်(၃၀၄)ရှိ မြေအကျယ် စုစုပေါင်း(၂.၁၇၀)ဧက (၁၀၁၇၃၄၈.၆၉) စတုရန်းမီတာတွင် Contract Processing စနစ်ဖြင့် ငါး၊ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန်ကုန်ချောများထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Shwe Myinn Company Limited.<br>ရွှေမြင်း ကုမ္ပဏီ လီမိတက် | (၁)ဒေါ်ဇမီရမ်<br>မန်နေဂျင်းဒါရိုက်တာ<br>၁/မညန(နိုင်)၀၀၀၆၂၁ | အမှတ်-(၇၃/၈၃)၊အခန်းအမှတ်(၄၀၇)၊၄-လွှာ၊ဗိုလ်တထောင်ဈေးလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | (၂)ဒေါ်ယုမေ<br>ဒါရိုက်တာ<br>၁၃/လရန(နိုင်)၀၉၈၇၃၃ | အမှတ်-(၂၄)၊ကမာကြည်လမ်း၊ (၂၉)ရပ်ကွက်၊သဃ်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၉၀၁၀၃၁၄၊၆၁၇၁၂၅၊၆၁၃၅၆၃၊

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-(၇၃/၈၃)၊အခန်းအမှတ်(၄၀၇)၊၄-လွှာ၊ ဗိုလ်တထောင်ဈေးလမ်း၊ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်ဇမီရမ် (မန်နေဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Contract Processing စနစ်ဖြင့် ငါး၊ ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းနှင့်အရည်အသွေးမြင့်မားသည့် တန်ဘိုးမြင့်ငါး၊ ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၁၅၅၆/၂၀၀၄-၂၀၀၅(၂၉-၂-၂၀၀၅)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၈-၂-၂၀၁၆

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -

ကန့်သတ်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး



42
30/7

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / စီမံစီးပွား
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀. ၆. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ မ-၂၁၃ / ၂၀၁၅ (၅၁၅)

၁။ Shwe Myinn Co., Ltd. သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၃၀၄)ရှိ မြေအကျယ်စုစုပေါင်း (၂. ၁၇၀)ဧက (၈၇၈၁. ၆၈၆)စတုရန်းမီတာတွင် Normal စနစ်နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေးမြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန်ကုန်ချောများထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၇၈)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၃၀၄)၊ မြေအကျယ်စုစုပေါင်း (၂. ၁၇၀)ဧက (၈၇၈၁. ၆၈၆)စတုရန်းမီတာရှိ Shwe Myinn Co., Ltd. ၏ ကိုယ်ပိုင်မြေနှင့် အဆောက်အဦပေါ်တွင် လုပ်ငန်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါ သည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၃. ၇. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၄/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၀)အရ Shwe Myinn Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါ သည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Shwe Myinn Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

2015/Cabinet/34.,(4)

ကန့်သတ်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၁)/၁၁(ဃ)(ဖ)/( [illegible] /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ [illegible] ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀ - ၆ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၂ / မ - ၂၁၃ / ၂၀၁၅ ( ၅၁၃ )

၁။ Shwe Myinn Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန် ၊ မြေတိုင်းရပ်ကွက် အမှတ်(၂၅)၊မြေကွက်အမှတ်(၃၀၄)ရှိ မြေအကျယ် စုစုပေါင်း(၂.၁၇၀)ဧက(၈၇၈၁.၆၈၆ စတုရန်းမီတာ) တွင် Normal စနစ် နှင့် Contract Processing စနစ် ( ၂ ) မျိုးဖြင့် ငါး ၊ ပုစွန်ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် အရည်အသွေးမြင့်မားသည့် တန်ဖိုးမြင့် ငါး ၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာအား စိစစ်ရာတွင် Normal စနစ် နှင့် Contract Processing စနစ် (၂) မျိုးဖြင့် ငါး ၊ ပုစွန်ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် အရည်အသွေးမြင့်မားသည့် တန်ဖိုးမြင့် ငါး ၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အနံ့အသက်ဆိုးများ ထွက်ရှိလာခြင်းကြောင့် ပတ်ဝန်းကျင်ရှိ လူများ၏ ကျန်းမာရေးအား ထိခိုက်စေနိုင်ခြင်း ၊ လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများ နှင့် စွန့်ပစ်ပစ္စည်းများကြောင့် လေထု ၊ မြေထု နှင့် ရေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Shwe Myinn Co., Ltd မှ Normal စနစ်နှင့် Contract Processing စနစ် (၂) မျိုးဖြင့် ငါး၊ ပုစွန် ပြုပြင် အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေးမြင့်မားသည့် တန်ဖိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ပါရန် အဆိုပြု တင်ပြလာခြင်း နှင့် ပတ်သက်၍ တစ်ဖက်ပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) ရေဆိုးပြန်လည်သန့်စင်မှု လုပ်ငန်းစနစ်များ ၊ အစိုင်အခဲ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု ၊ ရေရယူအသုံးပြုမှုနှင့် ရေစီမံခန့်ခွဲမှုစနစ်များ ၊ ရေထုညစ်ညမ်းမှု နှင့် အနံ့အသက်ဆိုးများ စီမံခန့်ခွဲမှု အစီအစဉ် ၊ အသံဆူညံမှုကာကွယ်ရေးစီမံချက်များကို ထည့်သွင်း ရေးဆွဲဆောင်ရွက်ရန် နှင့် ငါး ၊ ပုစွန်ကုန်ကြမ်းများအား ပြုပြင်အေးခဲရာ၌ Eco - Friendly ဖြစ်စေမည့် အအေးခန်းသုံးစက်ပစ္စည်းကိရိယာများ အသုံးပြုရန်၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE) ကိုဆောင်ရွက်ပြီး IEE အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊

(ဃ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်ပျက်စီးမှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်များ ၊ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်လေ့လာမည့်အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

(စ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများ ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ ၊ ရန်ကုန်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံးအကောင် အထည်ဖော်ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၁၄၂၁၄ /၂၀၁၅)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၁၃ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၀-၆-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၁၃/၂၀၁၅ (၅၁၄)

(၂) ငါးလုပ်ငန်းဦးစီးဌာန၏ (၉-၇-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ငလ/နပတ-၅/၂၀၁၅(၄၃၆၀)

(၃) ငါးလုပ်ငန်းဦးစီးဌာန၏ (၁၃-၇-၂၀၁၅) ရက်စွဲပါစာအမှတ်၊ငလ/နပတ-၅/၂၀၁၅(၄၃၉၈)

၁။ Shwe Myinn Co.,Ltd သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ် (၃၀၄)ရှိ မြေအကျယ်စုစုပေါင်း (၂.၁၇၀) ဧက (၈၇၈၁.၆၈၆ စတုရန်းမီတာ) တွင် Normal စနစ်နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေးမြင့်မားသည့် တန်ဘိုးမြင့် ငါး၊ ပုစွန်ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ Shwe Myinn Co., Ltd ၏အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍ စိစစ်ချက်အား အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအား ညီညွတ်မှုရှိ၊ မရှိ

(၁) **Normal စနစ်**။ Normal စနစ်အတွက်ကုန်ကြမ်းရရှိနိုင်မည့်အခြေအနေမှာ တစ်နှစ်လျှင် ပျမ်းမျှငါးကုန်ကြမ်း(၉၀၀)တန်မှ ကုန်ချော (၈၄၀)တန်ခန့် ထွက်ရှိ

နိုင်မည်ဖြစ်ပြီး တစ်ရက်လျှင် ငါးကုန်ချော(၂.၅၀)တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။ပျမ်းမျှပုစွန်ကုန်ကြမ်း(၆၅၀)တန်မှ ကုန်ချော (၃၇၀)တန်ခန့်ထွက်ရှိနိုင်မည်ဖြစ်ပြီးတစ်ရက်လျှင်ပုစွန်ကုန်ချော(၁.၁)တန်ခန့်ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(၂) **Contract Processing စနစ်**။ Contract Processing စနစ်အတွက် ကုန်ကြမ်းရရှိနိုင်မည့်အခြေအနေမှာ တစ်နှစ်လျှင်ပျမ်းမျှကုန်ကြမ်း(၃၅၀၀)တန်မှ ကုန်ချော (၃၀၀၀)တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပြီး တစ်ရက်လျှင်ကုန်ချော (၉)တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(ခ) **ဈေးနှုန်းဆိုင်ရာတွက်ချေကိုက်မှုရှိ၊ မရှိ**

(၁) **Normal စနစ်**။ Normal စနစ်အတွက် ငါးပို့ကုန်တန်ဖိုးမှာ တစ်တန်လျှင် အမေရိကန်ဒေါ်လာ(၂၉၆၃)ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ငါးကုန်ချောတန်(၈၄၀)အတွက် အမေရိကန်ဒေါ်လာသန်း (၂.၅)ခန့်နှင့် ပုစွန်ပို့ကုန်တန်ဖိုး တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၅၀၀၀)ခန့် ရရှိနိုင်ပြီး၊ ထုတ်လုပ်နိုင်မည့် ပုစွန်ကုန်ချော တန် (၃၇၀) အတွက် အမေရိကန်ဒေါ်လာသန်း (၁.၈၅)ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ဈေးနှုန်းဆိုင်ရာတွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(၂) **Contract Processing စနစ်**။ Contract Processing စနစ်တွင် လုပ်အားခမှာ တစ်တန်လျှင်အမေရိကန်ဒေါ်လာ(၆၅၆) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (၃၀၀၀) အတွက် အမေရိကန်ဒေါ်လာသန်း (၁.၉၆)ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် Shwe Myinn Co.,Ltd ၏ ဖော်ပြထားသော အချက်အလက်များအရ ဈေးနှုန်းဆိုင်ရာတွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ၊ မရှိ**

စက်ရုံတွင် တပ်ဆင်ထားသည့် ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာ ငါး/ပုစွန် ပြုပြင်ထုတ်လုပ်ရန်အတွက် - Contact Freezer (0.6 MT/ hr x 1No) နှင့် (0.4 MT / hr x 2 Nos), Air Blast Freezer (7.5 MT / 8 hrs x 5 Nos), Coldstore (200 MT x 1 Nos, 300 MT x 1 No, 500 MT x 1No)နှင့် Flake Ice Machine (1 MT/ 24 hrs) တပ်ဆင်ထားပြီး စက်၏ Capacity အရ အနည်းဆုံး တစ်နေ့ ငါး(၃၇.၅)တန်၊ ပုစွန်(၁.၄)တန် ထုတ်လုပ်နိုင်ကြောင်းသိရှိရပါသည်။ အဆိုပါစက်များ ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ